| | | | | | |
|---|---|---|---|---|---|
| 05438716 | E-Check (XS) Level 3 (1.5mLx4) | | 1 | 20 | 20.00 |
| ItemCode | ItemName packaging | | Qty | | |
| 15-91-001 | Ultrasound gel ( 1 Gallon ) #PC-Ultragel | | 6 | 40 | 240.00 |
| 15-90-001 | Thermal Paper Upp-110 HD for Up-860 ce #SONY | | 1 | 20 | 20.00 |
| 12-73-003 | CD Print Screen Logo "Bumrungrad International" | | 700 | 3 | 2,100.00 |
| 12-01-030 | Box CD-R (thick) | | 700 | 3 | 2,100.00 |
| 12-40-004 | Sticker COMPUTER 40 X 85 MM.with LOGO [1500 EA/ROLL) | | 1 | 500 | 500.00 |
| 11-22-001 | Condom " Lubricated " ( 3 pcs / 1 pack ) | | 25 | 6 | 150.00 |
| 213021731 | Examination Gloves # 100 pcs./ Box | | 1 | 50 | 50.00 |
| 213021782 | Examination Gloves # 100 pcs./ Box | | 1 | 50 | 50.00 |
| 11-71-005 | Alcohol Pad Neoplast ( 200 pcs./ Box | | 1 | 50 | 50.00 |
| EX60-0417 | Disposable mask ear-l 50/Box | | 3 | 50 | 150.00 |
| 20-73-037 | Caviwipes towelettes 6"x6.75"(160Sheet/bottle) "Diethelm Keller" | | 3 | 60 | 180.00 |
| 411010 | K-y jelly 2 oz(42 g) 2 oz(42 g) | | 2 | 20 | 40.00 |
| 852014 | Bactyl A 1:100 soln 1( 1000 ml | | 1 | 120 | 120.00 |
| 07-01-004 | Towel tissue "Kleenex 6 roll/pack | | 4 | 5 | 20.00 |
| 07-28-005 | Paper cover pillow siz 100/pack | | 6 | 5 | 30.00 |
| 07-28-001 | Facial Towels Size 7" : 600 pcs / box | | 0.5 | 20 | 10.00 |
| 07-22-001 | Paper cup 6.5 oz. ( 1000 pcs/ box | | 1 | 5 | 5.00 |
| | Description | | Qty | | |
| | ผ้าปูเตียงรัดมุม ( U/S & ABI Table ), size 75x196 cm - counterpane | | 15 | 30.30 | 454.55 |
| | ผ้าคลุมเตียง (U/S Table, ทับผ้าปูเตียงรัดมุม), size 200x100 cm - counterpane | | 150 | 39.39 | 5,909.09 |
| | ผ้าสำลีเช็ด Gel size 55x75 cm | | 375 | 3.00 | 1,125.00 |
| | Patient Gown-เสื้อ size XL | | 25 | 21.21 | 530.30 |
| | Patient Gown-เสื้อ size L | | 100 | 20.61 | 2,060.61 |
| | Patient Gown-กางเกง size XL | | 25 | 21.21 | 530.30 |
| | Patient Gown-กางเกง size L | | 100 | 20.30 | 2,030.30 |
| | ปลอกหมอน ( U/S Table & ABI) | | 16 | 6.36 | 101.82 |
| | ผ้าถุงกรณีทำ TVS | | 16 | 5.63 | 90.08 |

144,803.05

**Grand Total** $175,842

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Bumrungrad Myanmar Co., Ltd |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | ကျန်းမာရေးစောင့်ရှောက်မှုနှင့် ဆေးကုသရေးဝန်ဆောင်မှုများ အပါအဝင် ပုဂ္ဂလိကဆေးခန်းနှင့် ရောဂါရှာဖွေရေးဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်း (Private Clinic and Diagnostic Services including health care and medical services) |
| တည်နေရာ | - | အမှတ်(၇၇) ပြည်ထောင်စုရိပ်သာလမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | US$ ၅.၃ သန်း |
| လုပ်ငန်းသက်တမ်း | - | (၅၀) နှစ် သက်တမ်းတိုး( ၁၀ နှစ်) ၂ ကြိမ် |
| အရင်းကြေကာလ | - | ၄ နှစ် ၈ လ |
| IRR | - | ၁၄.၈ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်

| စဥ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၂.၁၆ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၇ သန်း |
| ၃ | သွင်းကုန်အကောက်ခွန်ကင်းလွတ်ခွင့် | ကျပ် ၁၄၂.၆၀ သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ် ၇၅၅.၀၀ သန်း | ကျပ် ၁၁၃၅.၀၀ သန်း |
| ၅ | လျှပ်စစ်မီးသုံးစွဲခ/ရေ/လောင်စာဆီ သုံးစွဲခ | | ကျပ် ၆၃.၉၀ သန်း |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ် သိန်း (၂၀)ကျော်ပါက အခွန်ပေးရမည့်ဝန်ထမ်း (၁၈) ဦး |
| ၇ | မြေငှားရမ်းခရငွေ | | ကျပ် ၂၈၈၀.၀၀ သန်း |
| ၈ | CSR (၂ %) | | ကျပ် ၁၂၄.၆၉ သန်း |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၁၀ ဦး၊ ပြည်ပ ၈ ဦး ပြည်တွင်းလုပ်သား (၁၀) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင်အခွင့် အလမ်းနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုနှင့်အထောက်အကူပြုစေပါသည်။ |
| | **စုစုပေါင်း** | **ကျပ် ၈၉၉.၇၆ သန်း** | **ကျပ် ၄၂၀၄.၇၆ သန်း** |
| | | **၁:၅** | |

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက- ၅(အ)/၀၀၆/၂၀၁၅( ၂၈၅ )
ရက်စွဲ၊ ၂၀၁၅ခုနှစ်၊ စက်တင်ဘာ လ ၉ ရက်

### မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြမည့် အမှာစာ

အကြောင်းအရာ။ **Bumrungrad Myanmar Co., Ltd. မှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ကျန်းမာရေးဆိုင်ရာ ဝန်ဆောင်မှု လုပ်ငန်းများ (Private Clinic and DiagnosticServices)ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ ထိုင်းနိုင်ငံ Bumrungrad Health Network Co., Ltd ( ယခင်အမည် Bumrungrad Personnel Development Center Co., Ltd – BPDC ) မှ (၈၀%)နှင့် မြန်မာနိုင်ငံ Yangon International Medical Services Co., Ltd. မှ (၂၀%) ထည့်ဝင်၍ Bumrungrad Myanmar Company Limited တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့နယ်၊ အမှတ်(၇၇)၊ ပြည်ထောင်စုရိပ်သာလမ်း၊ မြေတိုင်းရပ်ကွက်အမှတ် (၄၆-A)၊ မြေကွက် အမှတ်(၉၉-F)ရှိ မြေ(၀.၂၃၈) ဧက အားငှားရမ်း၍ ကျန်းမာရေးစောင့်ရှောက်မှုနှင့် ဆေးကုသရေးဝန်ဆောင်မှုများ အပါအဝင် ပုဂ္ဂလိကဆေးခန်းနှင့် ရောဂါရှာဖွေရေးဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်း (Private Clinic and Diagnostic Services including healthcare and medical services) ကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက်တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေငှားစာချုပ်(မူကြမ်း)၊ ဖက်စပ်စာချုပ်(မူကြမ်း)၊ Bumrungrad Personnel Development Center Co., Ltd. နှင့် ဖက်စပ်ကုမ္ပဏီ Bumrungrad Myanmar Co., Ltd တို့အကြားချုပ်ဆိုမည့် ချေးငွေစာချုပ်(မူကြမ်း) ၊ Yangon International Medical Services Co., Ltd. နှင့် ဖက်စပ်ကုမ္ပဏီ Bumrungrad Myanmar Co., Ltd တို့အကြား ချုပ်ဆိုမည့် ချေးငွေစာချုပ်(မူကြမ်း)၊ Bumrungrad Myanmar Company Limited ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ် တို့ကို ပူးတွဲတင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် မြေနှင့် အဆောက်အဦ အကျယ်အဝန်းမှာ ၀.၂၃၈ ဧက ၉၆၃ စတုရန်းမီတာ ဖြစ်ပါသည်။ ၂ ထပ် အဆောက်အဦတစ်လုံး ပါဝင်မည်ဖြစ်ပြီး အကျယ်အဝန်းမှာ ၄၅၀ စတုရန်းမီတာ ဖြစ်ပါသည်။ နှစ်စဉ်မြေငှားရမ်းခမှာ တစ်နှစ် US$ ၁၈၀,၀၀၀ ဖြင့် တစ်နှစ် စတုရန်းမီတာလျှင် US$ ၁၈၆.၉၁၅ နှုန်း ဖြစ်ပါသည်။

၄။ လုပ်ငန်း၏သက်တမ်းကာလမှာ ကနဦး ၅၀ နှစ်နှင့် ၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုး ဆောင်ရွက်မည်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၆လ ကြာမြင့်မည် ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ ၅.၃၀၃ သန်း ဖြစ်ပါသည်။ ၎င်းတွင် ချေးငွေ အမေရိကန်ဒေါ်လာ ၃.၉၇၇ သန်း ပါဝင်ပါသည်။ ချေးငွေကို

မိခင်ကုမ္ပဏီအသီးသီးမှ ချေးယူမည်ဖြစ်ပြီး နှစ်စဉ်အတိုးနှုန်း ၃.၂၅% ဖြင့် ပေးဆောင်မည်ဖြစ်ကြောင်း၊ ချေးငွေအား (၁၀)နှစ်အတွင်း အပြီးပြန်ဆပ်မည့် ချေးငွေစာချုပ်မူကြမ်းနှင့် Repayment Schedule တို့အား တင်ပြထားပါသည်။ ကနဦးလုပ်ငန်းသုံးပစ္စည်း တန်ဘိုး အမေရိကန်ဒေါ်လာ ၀.၁၇၆ သန်းနှင့် စက်နှင့် စက်ကိရိယာပစ္စည်းများ တန်ဘိုး အမေရိကန် ဒေါ်လာ ၂.၆၇၆ သန်း ကို ပြည်ပမှ တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုတွင် ထည့်ဝင်မှု အမျိုးအစားများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(US $)သန်း

| ရင်းနှီးမြှုပ်နှံမှုပမာဏ | Equity | Loan | စုစုပေါင်း |
|---|---|---|---|
| ပြည်တွင်းမှထည့်ဝင်မည့် ပမာဏ | ၀.၂၆၅(၂၀%) | ၀.၇၉၅(၂၀%) | ၁.၀၆၀ |
| ပြည်ပမှထည့်ဝင်မည့် ပမာဏ | ၁.၁၀၀(၈၀%) | ၃.၁၈၂(၈၀%) | ၄.၂၄၃ |
| | **၁.၃၂၆** | **၃.၉၇၇** | **၅.၃၀၃** |

(US$) သန်း

| ထည့်ဝင်သည့် အမျိုးအစား | မြန်မာ | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| စက်နှင့်စက်ကိရိယာပစ္စည်း (ပြည်ပဝယ်) | - | ၂.၆၇၆ | ၂.၆၇၆ |
| ကနဦးလုပ်ငန်းသုံးပစ္စည်း (ပြည်ပဝယ်) | ၀.၀၁၈ | ၀.၁၇၆ | ၀.၁၉၄ |
| အဆောက်အဦး | ၀.၅၄၀ | - | ၀.၅၄၀ |
| အခြား | ၀.၅၀၃ | ၁.၃၉၀ | ၁.၈၉၃ |
| **စုစုပေါင်း** | **၁.၀၆၁** | **၄.၂၄၂** | **၅.၃၀၃** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း (၁၀)ဦးနှင့် ပြည်ပမှ ဝန်ထမ်း(၈) ဦး စုစုပေါင်း(၁၈)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်းမှအနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ အမေရိကန်ဒေါ်လာ၂၁၃ နှင့် အမြင့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာမှာ အမေရိကန် ဒေါ်လာ ၉၁၄ ဖြစ်ပါသည်။ ပြည်ပမှ အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ အမေရိကန် ဒေါ်လာ ၄၅၇ နှင့် အမြင့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာမှာ အမေရိကန်ဒေါ်လာ ၉,၁၄၆ ဒေါ်လာ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှာ ပုဂ္ဂလိကဆေးခန်းနှင့်ကျန်းမာရေးဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်းများ လုပ်ဆောင်မည်ဖြစ်ပြီး ကျန်းမာရေးဆိုင်ရာစစ်ဆေးမှုများပြုလုပ်ပေးခြင်း၊ ဓါတ်မှန်/ဓါတ်ခွဲ ကျွမ်းကျင် ဝန်ထမ်းများဖြင့် ရောဂါရှာဖွေရေး ပြုလုပ်ပေးခြင်း၊ လိုအပ်သော ဆေးဝါးကုသမှု ပေးခြင်း တို့ကို ဆောင်ရွက်မည်ဖြစ်ပါသည်။

၈။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် ၆ နှစ်မြောက်တွင် ရရှိမည့်ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

**အမေရိကန်ဒေါ်လာ(သန်း)**

| | | |
|---|---|---|
| (က) | ဝင်ငွေ | ၅.ဝ၇ |
| (ခ) | အသုံးစရိတ် | ၂.၆၈ |
| (ဂ) | အသားတင်အမြတ် | ၂.၃၃ |

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ် ၆နှစ် မြောက်တွင်ရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၁၉ သန်း ရရှိမည်ဖြစ်ပါသည်။ အရင်းကြေကာလမှာ ၄ နှစ်နှင့် ၈ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ ၁၄.၈% ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဥ်း၍ သက်ဆိုင်ရာဌာနများမှ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားလာပါ သည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ရင်းနှီးမြှုပ်နှံမှု ပြုမည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိပါကြောင်း၊ အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သား အင်အား(၁၀)ဦး၊ ပြည်ပလုပ်သား အင်အား(၈)ဦး၊ စုစုပေါင်း(၁၈)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက်အထောက်အကူ ဖြစ်ပါကြောင်း၊ အဆိုပြုလုပ်ငန်း လုပ်ကိုင် ရာတွင် ရန်ကုန် တိုင်းဒေသကြီး၊ ဒဂုံမြို့နယ်၊ အမှတ် (၇၇)၊ ပြည်ထောင်စုရိပ်သာလမ်း၊ မြေတိုင်းရပ်ကွက်အမှတ်(၄၆-အေ)၊ မြေကွက်အမှတ် (၉၉-F)ရှိမြေ (၀.၂၃၈) ဧက (၉၆၃ စတုရန်းမီတာ) အား တစ်လလျှင် US$၁၅၀၀၀ ( တစ်နှစ် တစ်စတုရန်း မီတာ လျှင် US$ ၁၈၆.၉၁၅ ) နှုန်းဖြင့် ကနဦး(၃)နှစ်၊ နောက်ထပ်(၄၇)နှစ်အား သက်တမ်းတိုးငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများကလူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်း မှုတို့အရ လက်ခံနိုင်ခြင်းရှိပါကြောင်း၊ လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါကြောင်းနှင့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၂၀၁၅ ခုနှစ် မေလ ၂၆ ရက်နေ့တွင်ကျင်းပသည့် (၂၆/၂၀၁၅) ကြိမ်မြောက်အစည်းအဝေး၊ ဆုံးဖြတ်ချက် အပိုဒ်(၅၆)အရ Bumrungrad Myanmar Company Limited ၏ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်းထောက်ခံချက်ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနမှ** ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေ ရေးတို့အတွက် ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း (Initial Environmental

Examination-IEE) ကိုဆောင်ရွက်ရန်နှင့် လိုအပ်ပါက ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment -EIA) ဆောင်ရွက်ရန် ၊ ဆောင်ရွက်ရရှိသည့် အစီရင်ခံစာအရ စွန့်ပစ်ပစ္စည်းများအား စနစ်တကျစွန့်ပစ်မည့် အစီအစဉ်များပါဝင်သည့် စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့် ရန်ပုံငွေစသည့်တို့ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။**(ကုမ္ပဏီမှ ပတ်ဝန်းကျင်ဆိုင်ရာ ကနဦး လေ့လာခြင်း (Initial Environmental Examination-IEE) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan- EMP) အစီရင်ခံစာအား ရေးဆွဲပြီး ပြန်လည် တင်ပြမည်ဖြစ်ကြောင်း တင်ပြထားပါသည်) နောက်ဆက်တွဲ-ခ**

(ဂ) **ကျန်းမာရေးဝန်ကြီးဌာနမှ** Bumrungrad Myanmar Co., Ltd. အနေဖြင့် ပြည်ပမှတင်သွင်းမည့် ဆေးခန်းသုံးပစ္စည်းများတွင် ရောဂါရှာဖွေရေး (ဓါတ်မှန်) နှင့် (ဓါတ်ခွဲ)ဆိုင်ရာ ပစ္စည်းများပါဝင်ရာ ဝန်ထမ်းအင်အားတွင် အထူးကုဆရာဝန်ကြီး (ဓါတ်မှန်)နှင့် အထူးကုဆရာဝန်ကြီး(ရောဂါဗေဒ)တို့နှင့်အတူ ဓါတ်မှန်/ဓါတ်ခွဲ ကျွမ်းကျင် ဝန်ထမ်းများ ပါရှိရန်၊ ဆေးခန်းအဆောက်အဦ အခန်းဖွဲ့စည်းမှု(1st Floor,2nd Floor) ကိုဖော်ပြထားသော်လည်း အခန်းအလိုက် (ဥပမာ-ဓါတ်ခွဲခန်း၊ ဓါတ်မှန်ခန်း၊ လူနာစမ်းသပ်ခန်း) အသုံးပြုမည့်အခြေအနေကို ဖော်ပြရန်၊ ဆေးခန်းကို ပုဂ္ဂလိက ကျန်းမာရေးလုပ်ငန်းဆိုင်ရာ ဥပဒေနှင့်အညီ ဆေးခန်းအင်္ဂါရပ်များ ပြည့်စုံစွာ ဖြည့်ဆည်းရန် နှင့် Corporate Social responsibility (CSR) အတွက် international standards အရ at least (2-5%) of net profit အသုံးပြုရန် လိုအပ်ပြီး ၎င်းကို မည်သည့်နေရာများတွင် အသုံးပြုမည်ကို ဖော်ပြပေးရန် (ဥပမာ-အထူးကုဆရာဝန်ကြီးများ ကွင်းဆင်းကုသခြင်း) တို့လိုအပ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည်။**(ကုမ္ပဏီမှ ကျန်းမာရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်မည့်အစီအစဉ်အား တင်ပြလာခြင်းကို စိစစ်ပေးနိုင်ပါရန် ကျန်းမာရေးဝန်ကြီးဌာနသို့ ပေးပို့ထားပြီးဖြစ်ပါသည်) နောက်ဆက်တွဲ-ဂ**

၁၁။ နိုင်ငံခြားချေးငွေပါရှိသောကြောင့် မြန်မာနိုင်ငံတော် ဗဟိုဘဏ်သို့ သဘောထားမှတ်ချက် တောင်းခံထားပါသည်။ နိုင်ငံခြားငွေအထောက်အထားအဖြစ် Bangkok Bank တွင် Bumrungrad International Hospital Branch အနေဖြင့် (၁၃-၁-၂၀၁၅) ရက်စွဲဖြင့် စာရင်းဖွင့်ငွေလက်ကျန် US$ ၄၂.၄၅ သန်း နှင့် KBZ Bank (Kyauktadar (IBD)Branch) Yangon International Medical Services Co., Ltd.၊ ဒေါက်တာ မိုးဉာဏ်ကျော်၊ ဒေါ်နော် အိုင်းရင်း အမည်တို့ဖြင့် (၁၉ -၁-၂၀၁၅) ရက်စွဲဖြင့် လက်ကျန်ငွေ US$ ၆၄၀၁၅၃.၂၅ ရှိကြောင်း တင်ပြထားပါသည်။

၁၂။ ဝန်ထမ်းများ၏ လုပ်ခလစာဝင်ငွေ သိန်းနှစ်ဆယ်ကျော်ပါက အခွန်ထမ်းဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ မီးဘေးလုံခြုံရေးဆောင်ရွက်မည့် ဝန်ခံကတိပြုစာ၊ Bumrungrad Myanmar Co., Ltd အနေဖြင့် လုပ်ငန်းလည်ပတ်မှုမှ ရရှိမည်ဟု ခန့်မှန်းထားသည့် အသားတင်အမြတ်ငွေမှ ၂ % ကို ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာထိခိုက်မှု လုပ်ငန်းအစီအစဉ်များတွင် ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကိုခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၄။ အဆိုပါလုပ်ငန်းသည် ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၄ ရက်နေ့တွင် ထုတ်ပြန်သော အမိန့်ကြော်ငြာစာအမှတ် ၄၉/၂၀၁၄ တွင် ကျန်းမာရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ဖြင့် နိုင်ငံသားနှင့် ဖက်စပ်စနစ်ဖြင့် ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။

၁၅။ အဆိုပြုလုပ်ငန်းအား ၂၀၁၅ ခုနှစ် မေလ ၂၅ ရက်နေ့တွင် ကျင်းပပြုလုပ်သော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၂၅/၂၀၁၅ ) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၆။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အဆိုပြုလုပ်ငန်းအားပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခွင့်အား ၂၀၁၅ ခုနှစ် ဩဂုတ်လ ၅ ရက်နေ့တွင် ကျင်းပခဲ့သော ပြည်ထောင်စုအစိုးရအဖွဲ့ စီးပွားရေးရာ ကော်မတီ၏ (၁၆/၂၀၁၅) မှခွင့်ပြုခဲ့ပြီးဖြစ်၍ ပြည်ထောင်စု အစိုးရအဖွဲ့အစည်း အဝေးသို့ဆက်လက်တင်ပြထားပါသည်။

၁၇။ **စိစစ်တင်ပြချက်**

(က) ဤလုပ်ငန်းသည် healthcare and medical services လုပ်ငန်းဖြစ်သာကြောင့် မြန်မာနိုင်ငံတွင် ဤရင်းနှီးမြှုပ်နှံမှုကို လက်ခံမည်ဆိုပါက အလုပ်အကိုင်အခွင့်အလမ်းဖန်တီးမှုမများသော်လည်း ပြည်သူ့ကျန်းမာရေးအတွက် အရည်အသွေးပြည့်ဝစွာဖြင့် ဝန်ဆောင်မှုပေးနိုင်မည်ဖြစ်ကြောင်း သုံးသပ်ရပါသည်။

(ခ) ရောဂါရှာဖွေရေးနှင့် ဆေးကုသရေးများ ပါဝင်သောကြောင့် လုပ်ငန်းလည်ပတ်ချိန်တွင် ဓါတ်ခွဲခန်း၊ အခြားသွေးနှင့်ဆက်စပ်သော အခန်းများမှထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည်များအား စနစ်တကျစွန့်ပစ်ခြင်း မပြုပါက အနံ့ဆိုးများထွက်ရှိနိုင်ခြင်း၊ ရောဂါများပြန့်ပွားကူးစက်နိုင်ခြင်း ပတ်ဝန်းကျင်ထိခိုက်မှု ပြဿနာများဖြစ်ပေါ်စေနိုင်၍ ကျန်းမာရေးဝန်ကြီးဌာန နှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များ အတိုင်း တိကျစွာလိုက်နာဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် တစ်ဖက်ပါ ကျန်းမာရေးဝန်ဆောင်မှု လုပ်ငန်းများအားခွင့်ပြုမိန့်ထုတ်ပေးခဲ့ပြီး ဖြစ်ပါသည်။

| စဉ် | ကုမ္ပဏီအမည်/ လုပ်ငန်းအမျိုးအစား | ခွင့်ပြုခဲ့သည့် အကြိမ်/ ရက်စွဲ | ခွင့်ပြုမိန့်အမှတ် |
| --- | --- | --- | --- |
| ၁ | **Samitivej International Co., Ltd** (ကျန်းမာရေးဝန်ဆောင်မှုလုပ်ငန်းများ Samitivej International Specialist Clinic for HealthCareand Social Related Services) | ၁၉/၂၀၁၄ (၁၈-၇-၂၀၁၄) | (၇၆၈/၂၀၁၄) |
| ၂ | **European Hearing Care (Myanmar) Limited** (Hearing Assessment, Hearing Aids Production, Fitting and Post Treatment Care Services) | ၂၂/၂၀၁၄ (၁၉-၉-၂၀၁၄) | (၈၂၄/၂၀၁၄) |
| ၃ | **Yoma Siloam Hospital Pun Hlaing Co., Ltd** (နိုင်ငံတကာအဆင့်မီဆေးရုံနှင့် ရောဂါရှာဖွေစမ်းသပ်ရေးဌာန ပါဝင်သည့် ဆေးဖက်ဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်း) | ၃/၂၀၁၅ (၂၃-၂-၂၀၁၅) | (၉၂၃/၂၀၁၅) |

**ဆုံးဖြတ်ရန်အချက်**

၁၈။ သို့ဖြစ်ပါ၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Bumrungrad Myanmar Co., Ltd တည်ထောင်ကာ ကျန်းမာရေးစောင့်ရှောက်မှုနှင့် ဆေးကုသရေးဝန်ဆောင်မှုများ အပါအဝင် ပုဂ္ဂလိက ဆေးခန်းနှင့်ရောဂါရှာဖွေရေးဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်း (Private Clinic and Diagnostic Services including healthcare and medical services) လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာခြင်းကိုစစ္စနှင့်စပ်လျဉ်း၍ ကော်မရှင်မှ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(ချိုချိုဝင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

၇

# ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| ၁။ | Bumrungrad Myanmar Co., Ltd. | (၁) Mr. Num Tanthuwanit<br>Managing Director<br>Thai<br>Thai passport No. Y840907 | 61 Sukhumvit Soi 19,<br>wattana, Bangkok<br>10110 Thailand |
| | | (၂) Mr. Suthon Chutiniyomkarn<br>Director<br>Thai<br>Thai passport No. B926645 | 9/53 Soi Phuthabucha<br>36, Kwaeng Bangmod<br>Khet Thungkru,<br>Bangkok, Thailand |
| | | U Mo Ye Kyaw<br>Director<br>Myanmar<br>NRC No.12/Ba Ha Na<br>(N)803794 | 98(c), Than Lwin Road,<br>Bahan Township,<br>Yangon Myanmar |

၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ်၊ - ၀၉-၄၅၅၀၁၅၁၀

၂။ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ -

၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ရာထူး - ဦးမိုးရဲကျော်(ဒါရိုက်တာ)

၄။ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - ကျန်းမာရေးဝန်ဆောင်မှုလုပ်ငန်း

၅။ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ - ၁၃၈ အက်ဖ်စီ/၁၅-၁၆(ရက)(၁၄.၅.၁၅)

၆။ ကုမ္ပဏီမှတ်ပုံတင် သက်တမ်းကုန်ဆုံးသည့်နေ့စွဲ - ၁၃-၁၀-၂၀၁၅(ယာယီ)

၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် -

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ် ၊ ၃ / ၆ - ၃ ( ၄၃ ) / လူမှု
ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာ လ ၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂. ၉. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက-၅ (အ)/၀၀၆/၂၀၁၅(၂၇၄)

၁။ ထိုင်းနိုင်ငံ Bumrungrad Personnel Development Center Co.,Ltd (BPDC)မှ (၈၀%)နှင့် မြန်မာနိုင်ငံ Yangon International Medical Services Co.,Ltd မှ (၂၀%)အချိုးထည့်ဝင်ကာ ဖက်စပ်ပြုလုပ်၍ မြန်မာနိုင်ငံတွင် Bumrungrad Myanmar Co.,Ltd တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ဒဂုံမြို့နယ်၊ အမှတ်(၇၇)၊ ပြည်ထောင်စုရိပ်သာလမ်း၊ မြေတိုင်းရပ်ကွက်အမှတ် (၄၆-အေ)၊ မြေကွက်အမှတ်(99-F)ရှိ မြေ(၀. ၂၃၈)ကေတွင် ကျန်းမာရေးဆိုင်ရာဝန်ဆောင်မှုလုပ်ငန်းများ (Private Clinic and Diagnostic Services)ကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၁၀)ဦး၊ ပြည်ပလုပ်သားအင်အား(၈)ဦး၊ စုစုပေါင်း(၁၈)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့နယ်၊ အမှတ်(၇၇)၊ ပြည်ထောင်စုရိပ်သာလမ်း၊ မြေတိုင်းရပ်ကွက်အမှတ် (၄၆-အေ)၊ မြေကွက်အမှတ်(99-F)ရှိ မြေ(၀. ၂၃၈)ကေ (၉၆၃ စတုရန်းမီတာ)အား တစ်လလျှင် USD ၁၅၀၀၀ (တစ်နှစ်အတွက် တစ်စတုရန်းမီတာလျှင် USD ၁၈၆. ၉၁၅) နှုန်းဖြင့် ကနဦး(၃)နှစ်၊ နောက်ထပ်(၄၇)နှစ်အား သက်တမ်းတိုးငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါ အချက်များကြောင့် (၂၆. ၅. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၆/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၅၆)အရ Bumrungrad Myanmar Co.,Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

မိတ္တူကို

ရန်ကုန်တိုင်းဒေသကြီးလူမှုရေးဝန်ကြီး
ရန်ကုန်အနောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဒဂုံမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Bumrungrad Myanmar Co.,Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

D/2015/Cabinet/26_14

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
## ပြည်ထောင်စုဝန်ကြီးရုံး

JPF-3493
26.6.15

စာအမှတ် ၃(၂)/၁၁(ဃ)(၆)/( ၁၀၉၀ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ် ၊ ဇွန်လ ၂၅ ရက်

14-378
29.6.2015

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း။</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅-၅-၂၀၁၅၊ရက်စွဲပါစာအမှတ် ၊ ရက - ၄ / န -၀၂၃ /၂၀၁၅( ၃၈၁ )

၁။ ထိုင်းနိုင်ငံ Bumrungrad Personnel Development Center Co., Ltd (BPDC) မှ (၈၀ %) နှင့် မြန်မာနိုင်ငံ Yangon International Medical Services Co., Ltd မှ (၂၀ %) အချိုးထည့်ဝင်ကာ ဖက်စပ်ပြုလုပ်၍ မြန်မာနိုင်ငံတွင် Bumrungrad Myanmar Co., Ltd တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး ၊ ဒဂုံမြို့နယ် ၊ အမှတ်(၇၇) ၊ ပြည်ထောင်စုရိပ်သာလမ်း၊ မြေတိုင်းရပ်ကွက်အမှတ် (၄၆ - A) မြေကွက်အမှတ် (၉၉ - F) ရှိ မြေ ( ၀.၂၃၈ )ဧကတွင် ကျန်းမာရေးဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်းများ (Private Clinic and Diagnostic Services) ကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ အဆိုပြုလွှာအားစိစစ်ရာတွင် ကျန်းမာရေးဝန်ဆောင်မှုလုပ်ငန်းလည်ပတ်ချိန်တွင် ခါတ်ခွဲခန်း ၊ ခွဲစိတ်ခန်း နှင့် အခြားသွေး နှင့် ဆက်စပ်သောအခန်းများမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည် ( Biomedical Waste ) များအား စနစ်တကျစွန့်ပစ်ခြင်းမပြုပါက အန္တရာယ်ဆိုးများ ထွက်ရှိနိုင်ခြင်း ၊ ရောဂါများ ပြန့်ပွားကူးစက်နိုင်ခြင်း နှင့် ပတ်ဝန်းကျင်ရှိ မြေထု ၊ လေထု ၊ ရေထုညစ်ညမ်းနိုင်ခြင်း ၊ ဓါတ်မှန်နှင့် CT Scan တို့ အသုံးပြုရာမှ ထွက်ပေါ်လာမည့် ဓါတ်ရောင်ခြည်သည် လူကိုအန္တရာယ်ဖြစ်စေနိုင်ခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ Bumrungrad Myanmar Co., Ltd မှ ပုဂ္ဂလိကကျန်းမာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း နှင့် ပတ်သက်၍ တစ်ဘက်ပါအချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) ပတ်ဝန်းကျင် နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း ( Initial Environmental Examination - IEE ) ကို ဆောင်ရွက်ရန် နှင့် လိုအပ်ပါက ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း ( Environmental Impact Assessment - EIA ) ဆောင်ရွက်ရန် ၊

(ခ) ဆောင်ရွက်ရရှိသည့် အစီရင်ခံစာအရ စွန့်ပစ်ပစ္စည်းများအား စနစ်တကျစွန့်ပစ်မည့်အစီအစဉ်များပါဝင်သည့် စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှုအစီအစဉ် ၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ် ၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည့်တို့ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP) ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန် ၊

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊နည်းဥပဒေ၊လုပ်ထုံးလုပ်နည်း၊စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံ ပြည်သူလူထုတို့၏ ဆန္ဒနှင့် သဘောထားမှတ်ချက် ရယူဆောင်ရွက်ရန်။

(signature)

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ခင်မောင်ရီ၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ကျန်းမာရေးဝန်ကြီးဌာန

ဝန်ကြီးရုံး

စာအမှတ်၊ ၁၃မခ(က)၂၀၁၅(၂၆၇၉)/၃၂၄၇၁

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇူလိုင်လ( ၉ )ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ညှိနှိုင်းပြန်ကြားခြင်း။**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၆-၆-၂၀၁၅)ရက်စွဲပါစာအမှတ်၊ ရက-၅ (အ)/၀၀၆/၂၀၁၅(၁၇၅)။

၁။ အထက်အကြောင်းအရာနှင့်ပတ်သက်၍ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့နယ်၊ အမှတ်(၇၇)၊ ပြည်ထောင်စုရိပ်သာလမ်း၊ မြေတိုင်းရပ်ကွက်၊ အမှတ်(၄၆-A)၊ မြေကွက်အမှတ်(၉၉-F)ရှိ မြေ(၀.၂၃၈) ဧကတွင် Bumrungrad Myanmar Co.,Ltd တည်ထောင်ပြီး ကျန်းမာရေးဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်းများ (Private Clinic and Diagnostic Services)ကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ Mr.Num Tanthuwanit မှ တင်ပြခဲ့ပါသဖြင့် သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ ကျန်းမာရေးဝန်ကြီးဌာန၊ ကုသရေးဦးစီးဌာနမှ-

(က) ထိုင်းနိုင်ငံ Bumrungrad Personnel Development Center Co., Ltd (BPDC) မှ (၈၀%) နှင့် မြန်မာနိုင်ငံ Yangon International Medical Services Co., Ltd မှ (၂၀%) ထည့်ဝင်ကာ ဖက်စပ်ပြုလုပ်၍ Bumrungrad Myanmar Co.,Ltd တည်ထောင်၍ လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) ဝန်ထမ်းအင်အားသည် ပြည်တွင်းမှ (၁၀)ဦးနှင့် ပြည်ပမှ ဆရာဝန်(၂)ဦး အပါအဝင် (၈)ဦး ပါရှိမည်ဟုဖော်ပြထားပါသည်။

(ဂ) ပြည်ပမှတင်သွင်းမည့် ဆေးခန်းသုံးပစ္စည်းများတွင် ရောဂါရှာဖွေရေး (ဓါတ်မှန်)နှင့် (ဓါတ်ခွဲ)ဆိုင်ရာ ပစ္စည်းများပါဝင်ရာ ဝန်ထမ်းအင်အားတွင် အထူးကုဆရာဝန်ကြီး (ဓါတ်မှန်)နှင့် အထူးကုဆရာဝန်ကြီး(ရောဂါဗေဒ) တို့နှင့်အတူ ဓါတ်မှန်/ဓါတ်ခွဲကျွမ်းကျင်ဝန်ထမ်းများပါရှိရန် လိုအပ်သည်ကို တွေ့ရှိရပါသည်။

(ဃ) ဆေးခန်းအဆောက်အဦ အခန်းဖွဲ့စည်းမှု (1st Floor, 2nd Floor)ကို ဖော်ပြထားသော်လည်း အခန်းအလိုက် (ဥပမာ-ဓါတ်ခွဲခန်း၊ ဓါတ်မှန်ခန်း၊ လူနာစမ်းသပ်ခန်း) အသုံး ပြုမည့်အခြေ အနေကို ဖော်ပြရန် လိုအပ်လျက်ရှိပါသည်။

(င) ဆေးခန်းကို ပုဂ္ဂလိက ကျန်းမာရေးလုပ်ငန်းဆိုင်ရာဥပဒေနှင့်အညီ ဆေးခန်း အင်္ဂါရပ်များ ပြည့်စုံစွာ ဖြည့်ဆည်းရန် လိုအပ်လျက်ရှိပါသည်။

(စ) Corporate Social responsibility (CSR)အတွက် international standard အရ at Least (2-5%) of net profit အသုံးပြုရန် လိုအပ်ပြီး ၎င်းကို မည်သည့်နေရာများတွင် အသုံးပြုမည်ကို ဖော်ပြပေးရန် (ဥပမာ - အထူးကုဆရာဝန်ကြီးများ ကွင်းဆင်းကုသခြင်း) လိုအပ်လျက်ရှိပါသည်။

၃။ သို့ဖြစ်ပါ၍ ဖော်ပြပါလိုအပ်ချက်များနှင့်ပတ်သက်၍ ကျန်းမာရေးဝန်ကြီးဌာန၊ လုပ်ငန်းညှိနှိုင်း အစည်းအဝေး(၁၁/၂၀၁၅)သို့ တင်ပြခဲ့ရာ လိုအပ်ချက်များ ပြန်လည်တောင်းခံရန် ဆုံးဖြတ်ခဲ့ပါသဖြင့် သိရှိနိုင်ပါရန် ညှိနှိုင်းပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(ပါမောက္ခဒေါက်တာသက်ခိုင်ဝင်း၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို -

- ညွှန်ကြားရေးမှူးချုပ်၊ ကုသရေးဦးစီးဌာန